ပုံစံ (မနသ-၂)

# ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ ၁၁၁၇ / ၂၀၁၆ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၆ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဒေါ်မိုးမိုး

(ခ) **အဘအမည်** ဦးမောင်မောင်(ခ) လီဆူစိုင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၉/မရမ(နိုင်)၀၂၆၇၅၉

(ဃ) **နေရပ်လိပ်စာ** အမှတ်-၁၂၆၊ ကမ္ဘာအေးဘုရားလမ်း၊ ဆရာစံရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့်သို့မဟုတ်ဖွဲ့စည်းမည့်အဖွဲ့အစည်း** မြို့တော်ဖွံ့ဖြိုးတိုးတက်ရေး လီမိတက် (Capital Development Limited)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** စားသောက်ကုန်များ၊စိုက်ပျိုးရေး အခြေခံသစ်သီးဝလံနှင့် ဟင်းသီးဟင်းရွက်များအား သန့်စင်ခြင်း၊ ပြုပြင်ထုပ်ပိုးခြင်း၊ ရောင်းချခြင်း၊ သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မြေတိုင်းရပ်ကွက်အမှတ်-၂၊ မြေကွက်အမှတ် - ၂၅+ ၂၅E+ ၂၅F၊ ၆A၊ ၆H၊ ၄၃၁၊ ၂၅A၊ ၂၅B၊ ၂၅C၊ ၂၅D၊ ၄၁၊ ၄၊ ၇ ၊ မင်းနန္ဒာလမ်း၊ နွယ်အေးရပ်ကွက်၊ ဒေါပုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၃၉.၈၃၉ ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၉,၆၆၀.၉၉၂ သန်း (အမေရိကန်ဒေါ်လာ ၂.၃၄၇ သန်း အပါအဝင်)

(ဈ) **တည်ဆောက်မှုကာလ** ၁ နှစ် ၆ လ

(ည) **လုပ်ငန်းသက်တမ်း** ၅၀ နှစ်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၉ / ၂၀၁၆ (မနသ)

၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၆ ရက်

၁။ မြို့တော်ဖွံ့ဖြိုးတိုးတက်ရေး လီမိတက် (Capital Development Limited.) သည် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင် ဒေါပုံဂုန်နီကော်ဖော ပစ္စည်း စက်ရုံ၊ မြန်မာ့ဂုန်လျှော်ပစ္စည်းလုပ်ငန်း၊ မြေတိုင်းရပ်ကွက်အမှတ်-၂၊ မြေကွက်အမှတ်-၂၅+ ၂၅E+ ၂၅F၊ ၆A၊ ၆H၊ ၄၃၁၊၂၅A၊ ၂၅B၊၂၅C၊၂၅D၊၄၁၊၄၇၊ မင်းနန္ဒာလမ်း၊ နွယ်အေးရပ်ကွက်၊ ဒေါပုံမြို့နယ်၊ ရန်ကုန်မြို့ရှိ မြေဧရိယာ ၃၉.၈၃၉ ဧကကို B.O.T စနစ်ဖြင့် ငှားရမ်း၍ စားသောက်ကုန်များ၊ စိုက်ပျိုးရေး အခြေခံသစ်သီးဝလံနှင့် ဟင်းသီးဟင်းရွက်များအား သန့်စင်ခြင်း၊ ပြုပြင်ထုပ်ပိုးခြင်း၊ ရောင်းချခြင်း၊ သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်မိုးမိုး (အဘ-ဦးမောင်မောင် (ခ)လီဆူစိုင်) မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြချက်အား ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၁၁ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၂/၂၀၁၅) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါ သည်။

၂။ အဆိုပါ အစည်းအဝေး ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် မြို့တော်ဖွံ့ဖြိုးတိုးတက်ရေး လီမိတက် (Capital Development Limited.)အား စားသောက်ကုန်များ၊စိုက်ပျိုးရေးအခြေခံသစ်သီးဝလံနှင့်ဟင်းသီးဟင်းရွက်များအား သန့်စင်ခြင်း၊ ပြုပြင်ထုပ်ပိုးခြင်း၊ ရောင်းချခြင်း၊ သိုလှောင်ခြင်းနှင့် ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၁၁၇/၂၀၁၆ ကို ထုတ်ပေးလိုက် သည်။

၃။ မြို့တော်ဖွံ့ဖြိုးတိုးတက်ရေး လီမိတက် (Capital Development Limited.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁) အရ အောက်ပါ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစား ခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၅) နှစ်အထိ ဝင်ငွေခွန် ကင်းလွှတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား ၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့် အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့်အရှုံးငွေကို ယင်းသို့အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန် တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀ (ဆ) အရ လုပ်ငန်း စတင်တည်ဆောက်မှုကာလ အတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ တင်သွင်းလာသော ယာဉ်ယန္တရား၊ စက် ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်များဖြစ်စေ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးကို ဖြစ်စေ၊ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထား ရမည်။

(င) ဥပဒေပုဒ်မ၂၀(ဇ) အရ ဝင်ငွေခွန် စည်းကြပ်ရန် ကိစ္စအလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည် ပစ္စည်းများအပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်း များအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထား ရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏတိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်း ကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ တင်သွင်းသောယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင်အကောက်ခွန်ဖြစ်စေ၊အခြား ပြည်တွင်း အခွန်အကောက်များ

ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထား ရမည်။

၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၅။ မြို့တော်ဖွံ့ဖြိုးတိုးတက်ရေး လီမိတက် (Capital Development Limited.) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထား ရှိရမည်။

၆။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနနှင့် မြို့တော်ဖွံ့ဖြိုး တိုးတက်ရေးလီမိတက် (Capital Development Limited.) တို့အကြား မြေငှားရမ်းခြင်း သဘောတူစာချုပ်ကို ပြင်ဆင်သည့် ပြင်ဆင်ချက်သဘောတူစာချုပ် လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်ပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ငှားရမ်းခြင်း သက်တမ်းကာလမှာ မူလစာချုပ်စတင်အကျိုးသက်ရောက်သည့် (၁-၁-၂၀၁၂) ရက်နေ့မှစ၍ ကနဦးနှစ်(၅၀) နှင့် သက်တမ်းတိုးမြှင့်မည့် ကာလမှာတစ်ကြိမ်လျှင်(၁၀)နှစ်စီဖြင့်(၂)ကြိမ်ဖြစ်ပါသည်။ စက်ရုံမြေနှင့် အဆောက်အအုံများ၊ စက်ကိရိယာများအား တစ်နှစ်လျှင် ကျပ်သန်း(၁၅၀)နှုန်းဖြင့် ငှားရမ်းပြီး စာချုပ် သက်တမ်းကာလ တိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ခွင့်ပြုချက်ရရှိပြီးမှသာ အတည် ဖြစ်သည်။

၈။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဌာန်းသည့် စည်းကမ်း သတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၉။ မြို့တော်ဖွံ့ဖြိုးတိုးတက်ရေး လီမိတက် (Capital Development Limited.) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေ မည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေး ဆိုင်ရာ တာဝန်ခံမှု (CSR) လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏

(၁%) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များနှင့် လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊ စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သော စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအစဉ်၊ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စောင့်ကြပ်ကြည့်ရှုမည့် အစီအစဉ်များ စသည်တို့ပါ ဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲတင်ပြရန်နှင့် EMP အစီအစဉ်ပါ အတိုင်း အကောင်းအထည်ဖော်လိုက်နာ ဆောင်ရွက်ရမည်။

၁၀။ မြို့တော်ဖွံ့ဖြိုးတိုးတက်ရေး လီမိတက် (Capital Development Limited.) မှ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင်အလုပ်ရှင်နှင့်အလုပ်သမား ဆက်ဆံရေးပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယား စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြ ထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၁။ မြို့တော်ဖွံ့ဖြိုးတိုးတက်ရေး လီမိတက် (Capital Development Limited.) သည် ဤ ခွင့်ပြုမိန့်အရထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌မီးဘေးအန္တရာယ်စသည်များ မဖြစ်ပေါ်စေရေး အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်း ဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ထို့အပြင် ရေသိုလှောင်ကန်၊ မီးသတ် ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်း သုံးပစ္စည်းများ အသုံးပြုတတ်စေရန်အတွက် သင်တန်း များပေးရမည်။

၁၂။ မြို့တော်ဖွံ့ဖြိုးတိုးတက်ရေး လီမိတက် (Capital Development Limited.) သည် ဤ ခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရေးအတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက် ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင်

ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ မြို့တော်ဖွံ့ဖြိုးတိုးတက်ရေး လီမိတက် (Capital Development Limited.) သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်/တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၄။ မြို့တော်ဖွံ့ဖြိုးတိုးတက်ရေး လီမိတက် (Capital Development Limited.) သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်**အစီရင်ခံရမည်။ ထို့ပြင်လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃) လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။

၁၅။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်း လိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်း လိုင်စင်များ နှင့် ပြည်ပမှတင်သွင်းသည့်ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင်လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့်ညှိနှိုင်း ဆောင်ရွက်မည့်အပြင်လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ

ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂ (င) အရ နောင်တွင် မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းသည်အထိ အရေးယူခြင်းခံရမည်။

၁၈။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)

ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၂/မ-၂၂၀/၂၀၁၆ ( ၀၇၃ - က )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၆ ရက်

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ကျန်းမာရေးဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆေးဝါးလုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသား မှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်မှု မြှင့်တင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း

ဥက္ကဋ္ဌ၊ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ မြို့တော်ဖွံ့ဖြိုးတိုးတက်ရေး လီမိတက် (Capital Development Limited.)